




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၆၀၃.................. / ၂၀၁၃ ။ ၂၀၁၃ ခုနှစ်၊ မတ် လ ၃၁ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ............ဦးရာဂျစ်ကူးမာရ်............

(ခ) အဘ အမည် ............ဦးသိန်းအောင်............

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ...၁၂/မရက(ပြု) ၀၀၀၀၇၀...

(ဃ) နေရပ်လိပ်စာ ......အမှတ် (၁၆၃/၂၁၀)၊ နဝဒေးလမ်း၊ ၅-ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။......

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ...Real Diamond Star Co., Ltd...

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ...CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/ အောက်ကာဘာ နှင့် စတီးကြိုးများကို သီးခြားစီ ခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်း...

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ...မြေကွက်အမှတ်-၁၄၁၊ မြေတိုင်းရပ်ကွက် အမှတ်-၁၈၊ တိုးချဲ့စက်မှုဇုံ၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။...

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ...၂၅.၀၀ (သန်း) (အမေရိကန်ဒေါ်လာ (၃၀၀၀) အပါအဝင် စုစုပေါင်း ကျပ် နှစ်ဆယ့်ငါးသန်းတိတိ)...

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မတီ

ကန့်သတ်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၃၇ / ၂၀၁၃(မနသ)

၂၀၁၃ ခုနှစ် မတ်လ ၃၁ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Real Diamond Star Co., Ltd မှ မြေကွက်အမှတ်-၁၄၁၊ မြေတိုင်း ရပ်ကွက် အမှတ်(၁၈)၊ တိုးချဲ့စက်မှုဇုံ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ (၁.၃၇၇) ဧက အား ငှားရမ်း၍ CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားစီ ခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၉-၃-၂၀၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၁/၂၀၁၃) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Real Diamond Star Co., Ltd အား CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားစီ ခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၉၀၃/ ၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Real Diamond Star Co., Ltd အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ယင်း ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေပေါ်တွင် ၅၀% အထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်(၃)နှစ်ခံစားပြီးနောက်လုပ်ငန်း၏အမှန်တကယ်အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

ကန့်သတ်

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး သည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ စက်ပစ္စည်း သို့မဟုတ် လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျှော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျှော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃(ဇ)နှင့် ၁၃(ဈ)အရ ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် လိုက်နာဆောင်ရွက်ရမည် ။

၄။ Real Diamond Star Co., Ltd သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက် ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး သည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား ၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ် သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြ လျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ စက်ပစ္စည်း သို့မဟုတ် လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျှော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျှော့နှုန်း ထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိ နိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန် ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး ၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှ တင်သွင်း သည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃(ဇ)နှင့် ၁၃(ဈ)အရ ပြည်ပမှတင်သွင်း သည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ တင်သွင်း မည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် လိုက်နာဆောင်ရွက်ရမည် ။

၄။ Real Diamond Star Co., Ltd သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက် ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Real Diamond Star Co., Ltd သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေနှင့် အဆောက်အဦ အငှားချထားသူ ဦးမောင်မောင်မြင့်(ခ)Rajandar နှင့် အငှားချထားခြင်းခံရသူ ဦးရာဂျစ်ကူးမာရ်၊ (Real Diamond Star Co., Ltd) တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုး၍ **ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်** ပြီးသည့်အခါ ယင်း သဘောတူ စာချုပ်မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့ တင်ပြရမည်။

၇။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ Real Diamond Star Co., Ltd မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေး ထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၉။ Real Diamond Star Co., Ltd သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် သဘာဝ **ပတ်ဝန်းကျင် မထိခိုက်စေရေးအတွက် စွန့်ပစ်ပစ္စည်းများ၊ အမှိုက်သရိုက်များ မကျန်ရှိရအောင် အထူးဂရုပြု ဆောင်ရွက်ရမည်။ ကော်မရှင်မှလည်း ကွင်းဆင်းစစ်ဆေးရေး အဖွဲ့ဖြင့် လုပ်ငန်း** ဆောင်ရွက်နေစဉ် ကာလအတွင်း လိုက်လံ စစ်ဆေးပြီး သဘာဝ ပတ်ဝန်းကျင် ထိခိုက်စေသော ကိစ္စရပ်များကို လိုက်နာဆောင်ရွက်မှုများ မရှိခဲ့ပါက ခွင့်ပြုမိန့် ပြန်လည် ရုပ်သိမ်းမည်ဖြစ်သည်။

၁၀။ Real Diamond Star Co., Ltd. သည် ဤ ခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်း ကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံ များကို ဝန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြား သော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ ၊ ညွှန်ကြားချက်များ၊ လုပ်ထုံး လုပ်နည်း များနှင့် အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၁။ Real Diamond Star Co., Ltd သည် အဆိုပြုချက်တွင် ဝန်ခံကတိ ပြုထားသည့် အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီး စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှု လုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၂။ Real Diamond Star Co., Ltd သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ Real Diamond Star Co., Ltd သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၅။ အဆိုပြု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(စိုးသိန်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က)/မ- ၁၂၇၈/၂၀၁၃(၄၈၇၅-၈)

ရက်စွဲ ၊ ၂၀၁၃ ခုနှစ် မတ် လ ၃၇ ရက်

ဖြန့်ဝေခြင်း

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ ရန်ကုန်တိုင်း ဒေသကြီး

ဥက္ကဋ္ဌ၊ CMP လုပ်ငန်းများကြီးကြပ်ရေး ကော်မတီ၊ (အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန)

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

အုပ်ချုပ်မှုဒါရိုက်တာ၊ Real Diamond Star Co., Ltd

ကန့်သတ်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ရက-၆(က)/မ-၁၂၇၈/၂၀၁၃( ၄၀၃၇ )

ရက်စွဲ၊ ၂၀၁၃ ခုနှစ် မတ် လ ၂၉ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Real Diamond Star Co., Ltd မှ CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားစီ ခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်းကို လုပ်ကိုင် ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Real Diamond Star Co., Ltd မှ မြေကွက်အမှတ်-၁၄၁၊ မြေတိုင်း ရပ်ကွက် အမှတ်(၁၈)၊ တိုးချဲ့စက်မှုဇုံ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ (၁.၃၇၇) ဧက အား ငှားရမ်း၍ CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားစီ ခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်းကို လုပ်ကိုင် ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးရာဂျစ်ကူးမာရ် (အဘ-ဦးသိန်းအောင်) မှ အဆိုပြုချက် တင်ပြ လာခြင်း ဖြစ်ပါသည်။

၂။ Real Diamond Star Co., Ltd ၏ အဆိုပြုချက်နှင့် စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန၊ ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှု လက်မှု လုပ်ငန်းရှင်များ အသင်းချုပ်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန တို့သို့ သဘောထား များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြား လာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ (နောက်ဆက်တွဲ -က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် စက်မှုဇုန်မြေဖြစ်သဖြင့် နောင်ပြုလုပ်မည့် (သို့မဟုတ်)လက်ရှိ စီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန်အတွက် မြေနှင့် အဆောက်အဦ ပိုင်ရှင် ဦးမောင်မောင်မြင့်ထံမှ ဦးရာဂျစ်ကူးမာရ်က ငှားရမ်းခအဖြစ် တစ်လလျှင် ကျပ်(၁၅)သိန်းနှုန်းဖြင့် (၅)နှစ် စာချုပ် ချုပ်ဆိုငှားရမ်းထားပါကြောင်း၊

(၂) အဆိုပြုလုပ်ငန်း လည်ပတ်လုပ်ကိုင်ပါက လုပ်သားအင်အား(၁၀၀)ဦး အလုပ်အကိုင် ရရှိမည် ဖြစ်သဖြင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ဖြစ်စေပါကြောင်း၊

(၃) ဖော်ပြပါ မြေနေရာသည် စက်မှုဇုန်မြေဖြစ်ပါသဖြင့် စက်ရုံအတွက် သုံးစွဲခြင်း အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု တို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊

(၄) အဆိုပြုလုပ်ငန်းမှာ သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှု မရှိပါကြောင်း၊

(၅) ရန်ကုန်တိုင်း ဒေသကြီး အစိုးရအဖွဲ့၏ (၄၉/၂၀၁၂) (၃၀-၁၂-၂၀၁၂) အစည်းအဝေး ဆုံးဖြတ်ချက် အပိုဒ်(၅၇)အရ Real Diamond Star Co., Ltd ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း၊

(ခ) **CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ (နောက်ဆက်တွဲ - ခ)**

(၁) အဆိုပြုချက်ပါ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချော ထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိပါကြောင်း၊

(၂) CMP လက်ခ နှုန်းထားမှာ တစ်နှစ်လျှင် အသားတင်အမြတ်ငွေ ၇၉၁၅၀၀၀ ကျပ် ရရှိသဖြင့် ဆီလျော်မှု ရှိပါကြောင်း၊

(၃) အဆိုပါလုပ်ငန်းသည် Internet Cable ကြိုးများအား အပေါ်အောက်ကာဘာ နှင့် စတီးကြိုးများကို သီးခြားခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်းဖြစ်၍ Separator (10)Unit, Cutting Machine(2)Unit, Packing (1) Unit, Boiler(1)Unit ၊ လုပ်သား(၄၆)ဦးဖြင့် ဆောင်ရွက်မည် ဖြစ်ပြီး နှစ်စဉ် ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အား အချိုး အစား ညီမျှမှု ရှိပါကြောင်း၊ သို့ရာတွင် လုပ်သားအင်အား အနည်းဆုံး (၁၀၀)ဦးခန့်ဖြင့် ပြင်ဆင် ဆောင်ရွက် သင့်ပါကြောင်း၊

(CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ၏ သဘောထား မှတ်ချက်နှင့် အညီ ပြင်ဆင်ပြီး ကုမ္ပဏီမှ ပြန်လည် တင်ပြထားပါသည်။)

(ဂ) **ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ် (နောက်ဆက်တွဲ - ဂ)**

Real Diamond Star Co., Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာ မြို့နယ်၊ တိုးချဲ့စက်မှုဇုန် မြေကွက်အမှတ်-၁၄၁၊ မြေတိုင်းရပ်ကွက်အမှတ်(၁၈)ရှိ မြေ(၁.၃၇၇)ဧကအား ငှားရမ်း၍ CMPစနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားစီ ခွဲခြား၍ ဖြတ်တောက် စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် လျှောက်ထားခြင်းအပေါ် ကန့်ကွက်ရန် မရှိပါ ကြောင်း၊

(ဃ) **စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန (နောက်ဆက်တွဲ -ဃ)**

(၁) တောင်ကိုရီးယားနိုင်ငံတွင် Internet Cable များကို ကောင်းကင်ကြိုး အဖြစ် အသုံးပြုရာမှ မြေအောက် Cable ကြိုးစနစ်သို့ ပြောင်းလဲကျင့်သုံး လျှက်ရှိပါကြောင်း အသုံးပြုခဲ့သော Cable ကြိုးများကို Recycling ပြုလုပ်ရန်အတွက် တောင်ကိုရီးယား ကုမ္ပဏီတစ်ခုမှ လက်ခစားစနစ်ဖြင့် အပ်နှံခြင်း ဖြစ်ပါကြောင်း၊

(၂) စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန အနေဖြင့် " အထည်ချုပ်လုပ်ငန်း သဘောဆောင်သည့် ကုန်ပစ္စည်းများအပြင် အထည်ချုပ်လုပ်ငန်း သဘောမျိုးညီသော လက်ခစားလုပ်ငန်း ဆောင်ရွက်သည့် အခြားနိုင်ငံတော် အစိုးရက ခွင့်ပြုနိုင်သော မည်သည့် လုပ်ငန်းမျိုးမဆို (CMP)လက်ခစား စနစ်ဖြင့် တင်သွင်းခွင့် ပြုမည် ဖြစ်ကြောင်း" ၇-၄-၁၉၉၈ ရက်စွဲပါ သတင်းလွှာ ၂/၉၈ ဖြင့် ထုတ်ပြန်ထားပါကြောင်း၊

(၃) လက်ခစား (CMP)စနစ် ဆိုသည်မှာ တင်သွင်းလာသည့် ကုန်ကြမ်းအား ဖြတ်တောက် ချုပ်လုပ် ပြုပြင် ထုတ်ပိုး၍ ပြန်လည် တင်ပို့သည့် လုပ်ငန်းဖြစ်ပါကြောင်း၊ Processing ပြုလုပ်သည့် ကုန်ထုတ်လုပ်ငန်းဖြစ်ပါကြောင်း၊

(၄) ယခုလုပ်ငန်းသည် ကုန်ထုတ်လုပ်ငန်း မဟုတ်ပါ Cable ကြိုးအဟောင်းများကို ခွဲခြမ်း စိတ်ဖြာပြီး ပြန်လည်တင်သွင်းခြင်း ဖြစ်သဖြင့် ဘေးထွက် ပစ္စည်းများသည် ပတ်ဝန်းကျင် ထိခိုက်မှု ရှိ/မရှိ ဘေးအန္တရာယ် ဖြစ်စေခြင်း ရှိ/မရှိ စိစစ်သင့်ပါကြောင်း၊

(၅) ပြည်ပမှ ဝါယာကြိုးအဟောင်းများ တင်သွင်း၍ ခွဲခြမ်းစိတ်ဖြာပြီး ထွက်ရှိလာသည့် ပစ္စည်းများကို တင်ပို့သည့် လုပ်ငန်းကို (CMP)စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုရန် တင်ပြလာခြင်းမှာ နည်းပညာရရှိနိုင်မှု၊ ပြည်တွင်းအလုပ်အကိုင်ရရှိမှု၊ စွန့်ပစ်ပစ္စည်းများ၏ ပတ်ဝန်းကျင် အကျိုးသက်ရောက်မှု တို့အပေါ် စဉ်းစားသင့်ပါကြောင်း၊ ကုန်သွယ်မှု ရှုထောင့်မှ ကန့်ကွက်ရန် မရှိကြောင်း၊

(င) **ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန (နောက်ဆက်တွဲ - င)**

(၁) အဆိုပါ လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး၊ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် စက်ကိရိယာများ နှင့် ကုန်ထုတ်လုပ်မှု နည်းပညာများ အသုံးပြုရန်၊

(၂) လုပ်ငန်းခွင် လေကောင်းလေသန့် ရရှိရေး၊ ရေသန့် ရရှိရေး နှင့် ပတ်ဝန်းကျင် သန့်ရှင်း ကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ်ကို စီမံထား ရှိရန်၊ စက်ရုံ ပတ်ဝန်းကျင် စိမ်းလန်း စိုပြည်ရေးအတွက် သစ်ပင်များနှင့် ပန်းအလှပင်များ စိုက်ပျိုး ထားရှိရန်၊ စက်ရုံပတ်ဝန်းကျင် သန့်ရှင်းရေးအတွက် စွန့်ပစ် ပစ္စည်းများ စနစ်တကျ စွန့်ပစ်ရန်နှင့် လုပ်ငန်းခွင် လေကောင်းလေသန့် ရရှိရန် တို့အတွက် အစီအမံများ ရေးဆွဲ ဆောင်ရွက်ရန်၊

(၃) အဆိုပြုချက်ပါ လုပ်ငန်း မစတင်မီ စက်ရုံ လည်ပတ်ခြင်း နှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့် တို့ကြောင့် ထွက်ပေါ်လာမည့် အခိုးအငွေ့များ၊ စတီးကြိုးများ ဖြတ်တောက်ရာမှ ထွက်ပေါ်လာမည့် ဆူညံသံများ၊ လုပ်ငန်း အဆင့်ဆင့် ဆောင်ရွက်ရာမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများကြောင့် သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှုများ မဖြစ်ပေါ်စေရန် အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦး စစ်ဆေးခြင်း၊ ( Initial Environmental Examination – IEE ) လုပ်ငန်းကို ဆောင်ရွက်ရန်နှင့် လိုအပ်ပါက ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assement-EIA) လုပ်ငန်းကို ဆက်လက် ဆောင်ရွက်ပြီး အစီရင်ခံစာ တင်ပြရန်၊

(၄) အဆိုပါ ဆန်းစစ်တွေ့ရှိချက်များကို အခြေခံ၍ သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု မဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန် အတွက် ဆောင်ရွက်မည့် အစီအစဉ်များ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီ အစဉ် (Environmental Management Plan - EMP)ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါ လုပ်ငန်းများကို အပြည့်အဝ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၅) ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနနှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန အသီးသီးတို့မှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ မူဝါဒ၊ ဥပဒေ၊ နည်း ဥပဒေ၊ စည်းမျဉ်းစည်းကမ်းနှင့် ညွှန်ကြားချက် များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရန်၊

(၆) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့ နှင့် ဒေသခံ လူထု၏ ဆန္ဒနှင့် သဘောထားများ ရယူ ဆောင်ရွက်ရန်၊

(ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ စက်ရုံ ပတ်ဝန်းကျင်စိမ်းလန်းစိုပြည်ရေး အတွက် သစ်ပင်များ စိုက်ပျိုးထားရှိမည် ဖြစ်ကြောင်း၊ ပြည်ပသို့ 100 % ပြန်လည် တင်ပို့မည်ဖြစ်၍ ကုန်ထုတ်လုပ်မှုမှ မည်သည့် စွန့်ပစ် ပစ္စည်းမှ ထွက်ရှိမည် မဟုတ်၍ စွန့်ပစ် ပစ္စည်းကြောင့် ပတ်ဝန်းကျင် ထိခိုက်မှု

မရှိပါကြောင်း၊ လုပ်ငန်းလည်ပတ်သည့်အခါ ကော်မရှင်၊ စက်မှုဇုန် ကော်မတီ နှင့် အခြားသက်ဆိုင်ရာ အဖွဲ့အစည်းများ၏ စိစစ်မှုကို ခံယူ၍ သက်ဆိုင်ရာ များသို့ အစီရင်ခံ သွားမည် ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်သည့် အခါ (Initial Environmental Examination-IEE)စီမံချက်အား ကျွမ်းကျင်သူ ပညာရှင်များ နှင့် စစ်ဆေး၍ တင်ပြမည် ဖြစ်ပါကြောင်း ဝန်ခံကတိ ပြုထားပါသည်။)

၃။ လုပ်ငန်း အဆိုပြုချက်ကို **(နောက်ဆက်တွဲ -စ)**ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန် ဒေါ်လာ(၀.၀၀၃)သန်း အပါအဝင် စုစုပေါင်း ကျပ် (၂၅.၀၀) သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ US$(၀.၀၀၃)သန်းဖိုးအား ပြည်ပမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | |
|---|---|---|
| (က) | ငွေသား | ကျပ် ၉.၉၅ သန်း |
| (ခ) | စက်ပစ္စည်းကိရိယာများ | ကျပ် ၁၂.၀၅ သန်း (US$ ၀.၀၀၃ သန်း) |
| (ဂ) | ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | ကျပ် ၃.၀၀ သန်း |

**စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် ၂၅.၀၀ သန်း (US$ ၀.၀၀၃ သန်းအပါအဝင်)**

၄။ ကုမ္ပဏီသည် CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားစီ ခွဲခြား၍ ဖြတ်တောက် စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်းဆောင်ရွက်ရန် Dong Sun B & L Limited (ကိုရီးယားနိုင်ငံ) နှင့် Real Diamond Star Co., Ltd (မြန်မာကုမ္ပဏီ) တို့ ချုပ်ဆိုထား သည့် CMP Agreement တင်ပြထားပါသည်။ (နောက်ဆက်တွဲ- င)

၅။ အဆိုပြုလုပ်ငန်းမှ CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့်စတီး ကြိုးများကို ပြည်ပသို့ (၁၀၀) ရာခိုင်နှုန်းတင်ပို့ ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၅-နှစ်မြောက်) တွင် ထုတ်လုပ်နိုင်မှု နှင့် CMP လက်ခနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု (မက်ထရစ်တန်) | CMP လက်ခနှုန်း ( US$ / မက်တရစ်တန်) |
|---|---|---|---|
| ၁။ | Internet Cable (outer P.E, Inner P.E, Steel) | ၃၀၀၀ | ၉၀ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံး စရိတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါ အတိုင်းဖြစ်ပါသည်-

**အမေရိကန်တစ်ဒေါ်လာ= ၈၅၀ကျပ်**

| စဉ် | | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၀.၂၇ | ၂၂၉.၅၀ | - | ၂၂၉.၅၀ |
| (ခ) | အသုံးစရိတ် | ၀.၀၀၀၃ | ၀.၂၆ | ၂၂၆.၆၆ | ၂၂၆.၉၂ |
| (ဂ) | အသားတင် အမြတ် | ၀.၂၇ | ၂၂၉.၂၄ | (-)၂၂၆.၆၆ | ၂.၅၈ |

၆။ နိုင်ငံတော်မှ ပုံမှန်နှစ် (၅-နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ်(၈၆၁)သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ (၂)နှစ် (၁၀)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ (၂၅.၃၁) ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၁၀၅)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေး အတွက် ကြို / ပို့ ယာဉ် စီစဉ်ပေးခြင်း၊ အချိန်ပို လုပ်အားခပေးခြင်း၊ ကျန်းမာရေး စောင့်ရှောက်မှု အတွက် စက်ရုံ အတွင်း ဆေးပေးခန်း ထားရှိခြင်းနှင့် ထောက်ပံ့မှုများပေးခြင်း၊ ထူးချွန်သော လုပ်သားများကို ဆုပေးခြင်း၊ ဝန်ထမ်းများ ဆက်လက် ပညာဆည်းပူးမှုအတွက် ငွေကြေးထောက်ပံ့မှုများ၊ ခွင့်ရက်ရှည် ခံစားစေခြင်း စသည့် အခွင့်အရေးများ စီစဉ်ပေးထားပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၈။ ငွေကြေး အထောက်အထားအဖြစ် Real Diamond Star Co., Ltd အမည် ဖြင့် ယူနိုက်တက်အမရဘဏ်လီမိတက်တွင် (၂၀-၃-၂၀၁၃)နေ့ရှိ ဘဏ်လက်ကျန် ကျပ် (၁၀.၀၁၉)သန်း နှင့် မြန်မာနိုင်ငံခြား ကုန်သွယ်မှုဘဏ်တွင် (၂၆-၁၀-၂၀၁၂)နေ့ရှိ ဘဏ်လက်ကျန် US$(၅၁၀၀) ရှိကြောင်း တင်ပြထားပါသည်။

၉။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်နှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည် ဖြစ်ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီး ဒေသန္တရစက်မှုကြီးကြပ်ရေးဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော် မှ သတ်မှတ် ပြဌာန်းထား သည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။

၁၀။ ကုမ္ပဏီမှ ယင်းလုပ်ငန်းသည် မြေပေါ် Internet Cable ကြိုးများကို မြန်မာနိုင်ငံတွင် CMP System ဖြတ်တောက် စိတ်ပိုင်း၍ ထုတ်ပိုးသည့် လုပ်ငန်းဖြစ်ကြောင်း၊ ကိုရီးယားနိုင်ငံတွင် ကုန်ချော ပြန်လည် ထုတ်လုပ်နိုင်ရန်အတွက် ထုတ်လုပ်မှု ဖြစ်စဉ်၏ တစ်စိတ်တစ်ဒေသဖြစ်သည့်

ကုန်ကြမ်း ထုတ်လုပ်မှု အဆင့် ဖြစ်ပါကြောင်း၊ လုပ်ငန်းသဘာဝမှာ စက်မှုကုန်ကြမ်းထုတ်လုပ်သည့် လုပ်ငန်းဖြစ်ပါကြောင်း၊ ယင်းလုပ်ငန်းကို တောင်ကိုရီးယားနိုင်ငံ Han Seung Industrial Co., Ltd နှင့် အခြားကုမ္ပဏီများမှ အလားတူလုပ်ငန်းအပ်နှံမှုများကို တရုတ်နိုင်ငံ၊ ကမ္ဘောဒီးယားနိုင်ငံနှင့် ဗီယက်နမ်နိုင်ငံများသို့ လုပ်ငန်းအပ်နှံခြင်းများ ရှိပါကြောင်း၊ ကိုရီးယားနိုင်ငံတွင် (၅)နှစ်အတွင်း ဖျက်သိမ်းမည့် Internet Cable ကြိုး တန်ချိန် သိန်းချီ ရှိကြောင်း၊ လုပ်ငန်းလက်ခံရရှိပါက ကုမ္ပဏီအနေဖြင့် နှစ်စဉ် အမေရိကန်ဒေါ်လာ(၀.၆)သန်းကို လုပ်ငန်းရရှိသည့်နေ့မှ အနည်းဆုံး (၆)နှစ်မှ (၁၀)နှစ် ကာလအတွင်း တိုင်းပြည်အတွက် နိုင်ငံခြားငွေ ရှာဖွေပေးနိုင်မည်ဖြစ်ကြောင်း၊ နိုင်ငံတော်အတွက် အနိမ့်ဆုံး လုပ်ငန်းလည်ပတ်ကာလ (၆)နှစ်အတွင်း နိုင်ငံခြားငွေ အမေရိကန် ဒေါ်လာ(၄)သန်းခန့် ရှာဖွေ ပေးနိုင်မည် ဖြစ်ကြောင်း၊ ဆက်စပ်နေသည့် ဆိပ်ကမ်း လုပ်ငန်းများ၊ သယ်ယူ ပို့ဆောင်ရေးလုပ်ငန်းများ၊ ပြည်တွင်းရှိ ကုန်စည်ပို့ဆောင်ရေး လုပ်ငန်းများ၊ အလုပ် အကိုင် နှင့် ဝင်ငွေအခွင့်အလမ်းများ တစ်စိတ် တစ်ဒေသ တိုးတက်ရေးကို အထောက်အကူ ပြုနိုင်မည် ဖြစ်ကြောင်း၊ တိုင်းပြည်၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုနှင့် အလုပ်အကိုင် အခွင့်အလမ်းများစွာကို ဖန်တီးပေးနိုင်မည်ဖြစ်ကြောင်း ရှင်းလင်း တင်ပြထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၂။ သို့ဖြစ်ပါ၍ Real Diamond Star Co., Ltd မှ မြေကွက်အမှတ်-၁၄၁၊ မြေတိုင်း ရပ်ကွက် အမှတ်(၁၈)၊ တိုးချဲ့စက်မှုဇုံ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ (၁.၃၇၇) ဧက အား ငှားရမ်း၍ CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားစီ ခွဲခြား၍ ဖြတ်တောက် စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ် ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ရုံးလက်ခံ

နောက်ဆက်တွဲ (က)




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား
ရက် စွဲ ၊ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၉ ရက်

D-54
6.1.13

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃. ၁၁. ၂၀၁၂ ရက်စွဲပါစာအမှတ်၊ ရက - ၆(က) / မ - ၁၂၇၈ / ၂၀၁၂ ( ၁၂၂၆၈ - ၀ )

၁။ Real Diamond Star Co.,Ltd မှ ရန်ကုန်မြောက်ပိုင်းခရိုင်၊ လှိုင်သာယာမြို့နယ်၊ တိုးချဲ့စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၈)၊ မြေကွက်အမှတ်(၁၄၁)ရှိ မြေ(၁. ၃၇၇)ဧကအား ငှားရမ်း၍ CMP စနစ်ဖြင့် Internet Cable ၏ အပေါ်အောက် ကာဘာနှင့်စတီးကြိုးများကို သီးခြားစီခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့်လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက်တင်ပြအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် စက်မှုဇုန်မြေဖြစ်သဖြင့် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိ စီမံကိန်းကိုထိခိုက်နိုင်ခြင်းမရှိပါ။အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန်အတွက် မြေနှင့်အဆောက်အဦ ပိုင်ရှင် ဦးမောင်မောင်မြင့်ထံမှ ဦးရာဂျစ်လူးမာရ်က ငှားရမ်းခအဖြစ် တစ်လလျှင် ကျပ်(၁၅)သိန်းနှုန်းဖြင့် (၅)နှစ်စာချုပ်ချုပ်ဆိုငှားရမ်းထားပါသည်။

(ခ) အဆိုပြုလုပ်ငန်း လည်ပတ်လုပ်ကိုင်ပါက လုပ်သားအင်အား (၁၀၀)ဦးအလုပ်အကိုင် ရရှိမည်ဖြစ်သဖြင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူဖြစ်စေပါသည်။

(ဂ) ဖော်ပြပါမြေနေရာသည် စက်မှုဇုန်မြေဖြစ်သဖြင့် စက်ရုံအတွက်သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

(ဃ) အဆိုပြုလုပ်ငန်းမှာ သဘာဝပတ်ဝန်းကျင်အားထိခိုက်မှု မရှိပါ။

၂။ အထက်ဖော်ပြပါအချက်များကြောင့် ၃၀. ၁၂. ၂၀၁၂ ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်( ၄၉/၂၀၁၂ ) ဆုံးဖြတ်ချက်အပိုဒ် (၅၇) အရ Real Diamond Star Co.,Ltd ၏ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှု အားခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းနှင့်စီးပွားရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
Real Diamond Star Co.,Ltd
လက်ခံစာတွဲ
မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ **နောက်ဆက်တွဲ (ခ)**

CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄-အလ/ခွဲ(၂) ၂၀၁၂ ( ၉၇၂၅ )

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ ၁၀ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ်(၃၂)၊ နေပြည်တော်

M-1594 13/12

အကြောင်းအရာ။ **Real Diamond Star Co., Ltd မှ CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားစီခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်း ဆောင်ရွက်ခွင့်အပေါ် သဘောထားမှတ်ချက် ပေးပို့ခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃.၁၁.၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၂၇၈/၂၀၁၂(၁၂၂၆၈-ဃ)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၅)၊ ရွှေရင်အေး(၁)လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၁၈)၊ မြေကွက်အမှတ်(၁၄၁)ရှိ မြေ(၁၀၃၇၇) စေအား ငှားရမ်း၍ Real Diamond Star Co., Ltd အမည်ဖြင့် ရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားစီခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်း ဆောင်ရွက်ရန် တင်ပြမှုအပေါ် CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ၊ အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ် ဦးဝင်းရှိန်နှင့် ရာဘာပစ္စည်းစက်ရုံ၊ လက်ထောက် အထွေထွေမန်နေဂျာ ဒေါ်ကြည်ကြည်နွဲ့တို့သည် ၅.၁၂.၂၀၁၂ ရက်နေ့ (၁၃:၃၀) နာရီတွင် တာဝန်ရှိသူများနှင့် တွေ့ဆုံမေးမြန်းခဲ့ပါသည်။

၂။ Real Diamond Star Co., Ltd ၏ အဆိုပြုချက်အား အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) **C.M.P ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိ/မရှိ**

အဆိုပြုချက်တွင် ကုန်ကြမ်းမှာ Internet cable ကြိုးများဖြစ်ပြီး ကုန်ချောမှာ (၁)Quter P.E၊ (၂)Inner P.E နှင့် (၃) Steel ကြိုးများထုတ်လုပ်ရန် ဖော်ပြပြီး -

ကုန်ကြမ်းတင်သွင်းမှု

| | | |
|---|---|---|
| Internet Cable | - | 2400 mt |
| Wastage5% | - | 120 mt |
| Net Production | - | 2280 mt |

ကုန်ချောထုတ်လုပ်မှု

| | | |
|---|---|---|
| 1.Outer P.E 50% | - | 1140 mt |
| 2.Inner P.E 30% | - | 684 mt |
| 3.Steel20% | - | 456 mt |

အဆိုပြုချက်ပါ ကုန်ကြမ်း လိုအပ်ချက်နှင့် ကုန်ချော ထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိပါသည်။

(ခ) **C.M.P လက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ။**

1st Year Production

| | | | | |
|---|---|---|---|---|
| 1. Outer P.E | - | 1140 mt | x 70US$ | = 79800 US$ |
| 2. Inner P.E | - | 684 mt | x 70US$ | = 47880 US$ |
| 3. Steel | - | 456 mt | x 70US$ | = 31920 US$ |
| | Total Income | | | = 159600 US$ |

Exchange Rate 1 US$ = 850 Kyats

(1)Total Income - 159600x850 =135660000Kyats

(2)Expenditure Cost – 300x850+ 127490000 =127745000Kyats

- Salary =54240000Kyats
- Direct Over Head Expense =23705000Kyats
- Indirect Over Head Expense =49800000Kyats

(3)Net Profit =7915000Kyats

CMP လက်ခနှုန်းထားမှာ တစ်နှစ်လျှင် အသားတင်အမြတ်ငွေ ၇၉၁၅၀၀၀ ကျပ် ရရှိသဖြင့် ဆီလျော်မှုရှိပါသည်။

(ဂ) **နှစ်စဉ်ထုတ်လုပ်မှု၊စက်အင်အား၊လူအင်အားအချိုးအစားညီမျှမှုရှိ/မရှိ။** အဆိုပါ လုပ်ငန်းသည် Internet Cable ကြိုးများအား အပေါ်အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်းဖြစ်၍ Separator (10) Unit, Cutting Machine (2)Unit, Packing (1)Unit, Boiler (1)Unit ၊ လုပ်သား(၄၆)ဦးဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အား အချိုးအစား ညီမျှမှု ရှိပါသည်။ သို့ရာတွင် လုပ်သားအင်အား အနည်းဆုံး (၁၀၀)ဦးခန့်ဖြင့် ပြင်ဆင်ဆောင်ရွက်သင့်ပါသည်။

၃။ Real Diamond Star Co., Ltd အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျော့ချရေးကို အထောက်အကူပြုနိုင်သော်လည်း လူအင်အားတိုးချဲ့ဆောင်ရွက်မှသာ CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားစီခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်။

30/11/11

ဥက္ကဋ္ဌ(ကိုယ်စား)
(မောင်မောင်ကျော်၊ ရုံးအဖွဲ့မှူး)
( အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို

- အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
  (CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
- အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
  (CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
- Real Diamond Star Co., Ltd
- ရုံးလက်ခံ
- မျှောစာတွဲ





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄-အလ/ခွဲ(၂) ၂၀၁၂ (

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ ၁၂ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

အကြောင်းအရာ။ **Real Diamond Star Co., Ltd မှ CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားစီခွဲခြား၍ ဖြတ်တောက် စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်း ဆောင်ရွက်ခွင့်အပေါ် သဘောထားမှတ်ချက် ပေးပို့ခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃.၁၁.၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၂၇၈/၂၀၁၂(၁၂၂၆၈-၈)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၅)၊ ရွှေရင်အေး(၁)လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၁၈)၊ မြေကွက်အမှတ်(၁၄၁)ရှိ မြေ(၁၀၃၇၇) စကေအား ငှားရမ်း၍ Real Diamond Star Co., Ltd အမည်ဖြင့် ရင်းနှီးမြှုပ်နှံပြီး CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားစီခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်း ဆောင်ရွက်ရန် တင်ပြမှုအပေါ် CMPလုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ၊ အလုပ်ရုံနှင့် အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ် ဦးဝင်းရှိန်နှင့် ရာဘာပစ္စည်းစက်ရုံ၊ လက်ထောက်အထွေထွေမန်နေဂျာ ဒေါ်ကြည်ကြည်ခွဲ့တို့သည် ၅.၁၂.၂၀၁၂ ရက်နေ့ (၁၃း၃၀) နာရီတွင် တာဝန်ရှိသူများနှင့် တွေ့ဆုံမေးမြန်းခဲ့ပါသည်။

၂။ Internet Cable ၏ အပေါ်/အောက် ကာဘာနှင့်စတီးကြိုးများကို သီးခြားစီခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်းသည် နည်းပညာ မြင့်မားခြင်း မရှိဘဲ Internet Cable ကြိုးများကို ပေါင်းခံခြင်း၊ ဖြတ်တောက်ခြင်း၊ ထုတ်ပိုးခြင်း ဖြစ်ပြီး လူအင်အားများစွာကို အလုပ်အကိုင် ပေးနိုင်ရန် လူ(၄၆)ဦးအစား အနည်းဆုံး လူ(၁၀၀) ကျော်ခန့်ဖြင့် ဆောင်ရွက်မှသာ သင့်တော်မည်ဖြစ်၍ လူအင်အားတိုးချဲ့လုပ်ကိုင်နိုင်မှသာ ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်။

၁၂/၁၂/၁၂

ဥက္ကဋ္ဌ(ကိုယ်စား)
(မောင်မောင်ကျော်၊ ရုံးအဖွဲ့မှူး)
(အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

D:NPT(ET)/2012/CMP(11-2012)/CMP.General

မိတ္တူကို

- အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
  (CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
- အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
  (CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
- Real Diamond Star Co., Ltd
- ရုံးလက်ခံ
- မျှောစာတွဲ



နောက်ဆက်တွဲ (ဃ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

M_1593
13/12

စာအမှတ်၊ စက - ၁၄ / ၁ - ၃၀ / ၂၀၁၂ (၃၂)
ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ ၁၂ ရက်

သို့

DDG 6 14/12

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံလာသည့်ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၃ - ၁၁ - ၂၀၁၂ ရက်စွဲပါစာအမှတ်၊ ရက-၆ (က) / မ- ၁၂၇၈ / ၂၀၁၂ (၁၂၂၆၈- ဆ)

၁။ Real Diamond Star Co.,Ltd. သည် ပြည်ပမှ Internet Cable ကြိုးများကို တင်သွင်းပြီး အပေါ်/အောက် ကာဘာများနှင့် စတီးကြိုးများကို သီးခြားစီခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ၁၀၀ ရာခိုင်နှုန်း ပြန်လည်တင်ပို့ခြင်းကို လက်ခစား (CMP) စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကုန်သွယ်ရေးမူဝါဒအရ လက်ခံနိုင်ခြင်း ရှိ/မရှိ သဘောထားမှတ်ချက် တောင်းခံသည့်ကိစ္စဖြစ်ပါသည်။

၂။ တောင်ကိုရီးယားနိုင်ငံတွင် Internet Cable များကို ကောင်းကင်ကြိုးအဖြစ် အသုံးပြုရာမှ မြေအောက် Cable ကြိုးစနစ်သို့ ပြောင်းလဲကျင့်သုံးလျှက်ရှိပါကြောင်း အသုံးပြုခဲ့သော Cable ကြိုးများကို Recycling ပြုလုပ်ရန်အတွက် တောင်ကိုရီးယားကုမ္ပဏီတစ်ခုမှ လက်ခစားစနစ်ဖြင့် အပ်နှံခြင်းဖြစ်ပါသည်။

၃။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနအနေဖြင့် "အထည်ချုပ်လုပ်ငန်းသဘောဆောင်သည့်ကုန်ပစ္စည်းများအပြင် အထည်ချုပ်လုပ်ငန်း သဘောမျိုးညီသော လက်ခစာလုပ်ငန်းဆောင်ရွက်သည့် အခြားနိုင်ငံတော်အစိုးရက ခွင့်ပြုနိုင်သော မည်သည့်လုပ်ငန်းမျိုးမဆို CMP လက်ခစားစနစ်ဖြင့် တင်သွင်းခွင့်ပြုမည်ဖြစ်ကြောင်း" ၇ - ၄ - ၁၉၉၈ ရက်စွဲပါ သတင်းလွှာ ၂ / ၉၈ ဖြင့် ထုတ်ပြန်ထားပါသည်။

၄။ လက်ခစား (CMP) စနစ်ဆိုသည်မှာ တင်သွင်းလာသည့်ကုန်ကြမ်းအား ဖြတ်တောက်ချုပ်လုပ်ပြုပြင်ထုတ်ပိုး၍ ပြန်လည်တင်ပို့သည့် လုပ်ငန်းဖြစ်ပါသည်။ Processing ပြုလုပ်သည့်ကုန်ထုတ်လုပ်ငန်းဖြစ်ပါသည်။

၅။ ယခုလုပ်ငန်းသည် ကုန်ထုတ်လုပ်ငန်းမဟုတ်ပါ Cable ကြိုးအဟောင်းများကို ခွဲခြမ်းစိတ်ဖြာပြီး ပြန်လည်တင်သွင်းခြင်းဖြစ်သဖြင့် ဘေးထွက်ပစ္စည်းများသည် ပတ်ဝန်းကျင်ထိခိုက်မှု ရှိ /မရှိ ဘေးအန္တရာယ်ဖြစ်စေခြင်း ရှိ /မရှိ စိစစ်သင့်ပါသည်။

၆။ ပြည်ပမှ ဝါယာကြိုးအဟောင်းများတင်သွင်း၍ ခွဲခြမ်းစိတ်ဖြာပြီး ထွက်ရှိလာသည့် ပစ္စည်းများကို တင်ပို့သည့်လုပ်ငန်းကို (CMP) စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုရန် တင်ပြလာခြင်းမှာ နည်းပညာရရှိနိုင်မှု၊ ပြည်တွင်းအလုပ်အကိုင်ရရှိမှု၊ စွန့်ပစ်ပစ္စည်းများ၏ ပတ်ဝန်းကျင်အကျိုးသက်ရောက်မှုတို့အပေါ် စဉ်းစားသင့်ပါကြောင်း၊ ကုန်သွယ်မှုရှုထောင့်မှ ကန့်ကွက်ရန်မရှိကြောင်း ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( တိုးအောင်မြင့်၊ ရုံးအဖွဲ့မှူး )

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

**နောက်ဆက်တွဲ (ဂ)**



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ
# ကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်


အမှတ် (၂၉)၊ မင်းရဲကျော်စွာလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။
ဖုန်း - ၂၁၄၃၄၄/၂၁၄၃၄၅/၂၁၄၃၄၆/၂၁၄၃၄၇/၂၁၄၃၄၈/၂၁၄၃၄၉။ ဖက်(စ်) - ၉၅-၁-၂၁၄၄၈၄


စာအမှတ်။ ဂ/၁/၁/(ဝန်ဆောင်)/၁၁-၁၃(၁၂၂၄)
ရက်စွဲ ။ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ ၁၂ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ ။သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၃-၁၁-၂၀၁၂ ရက်စွဲပါ စာအမှတ် ရက-(၆)(က)/မ-၁၂၇၈/ ၂၀၁၂ (၁၂၂၆၈-၉)

၁။ Real Diamond Star Co.,Ltd သည် ရန်ကုန်တိုင်းဒေသကြီး ၊လှိုင်သာယာမြို့နယ် ၊ တိုးချဲ့စက်မှုဇုန် မြေကွက်အမှတ်-၁၄၁၊ မြေတိုင်းရပ်ကွက် အမှတ် (၁၈)၊ ရှိမြေ (၁.၃၇၇)ဧက အားငှားရမ်း၍ CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားစီခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် ဤအသင်းချုပ်သို့ သဘောထားမှတ်ချက် ပြန်ကြားပါရန် ညှိနှိုင်းမေတ္တာရပ်ခံစာကိုလက်ခံရရှိပါသည်။

၂။ ဤအသင်းချုပ်မှ စိစစ်ခဲ့ရာ Real Diamond Star Co.,Ltd သည် ရန်ကုန်တိုင်းဒေသကြီး ၊လှိုင်သာယာမြို့နယ် ၊ တိုးချဲ့စက်မှုဇုန် မြေကွက်အမှတ်-၁၄၁၊ မြေတိုင်းရပ်ကွက် အမှတ် (၁၈)၊ ရှိမြေ (၁.၃၇၇)ဧက အားငှားရမ်း၍ CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားစီခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့် လုပ်ငန်းကို လုပ်ငန်းကိုလုပ်ကိုင်နေသည်မှာ မှန်ကန်ကြောင်း လှိုင်သာယာစက်မှုမြို့၊ စက်မှုဇုန်အပိုင်း(၅)စီမံခန့်ခွဲရေးကော်မတီ ၏ ၇-၁၂-၂၀၁၂ ရက်စွဲပါစာအမှတ် လသယ/ စမ-၅/ ထ၈/၂၀၁၂ (၂၀၅) ထောက်ခံချက်နှင့်အတူ Real Diamond Star Co.,Ltd (မြန်မာကုမ္ပဏီ) နှင့် CMP Contract ချုပ်ဆိုထားသည့် Dong Sun B& L Limited (ကိုရီးယားနိုင်ငံ) ၏ Company Profile စသည့်အထောက်အထားများကိုတင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ Real Diamond Star Co.,Ltd သည် ရန်ကုန်တိုင်းဒေသကြီး ၊လှိုင်သာယာမြို့နယ် ၊ တိုးချဲ့စက်မှုဇုန် မြေကွက်အမှတ်-၁၄၁၊ မြေတိုင်းရပ်ကွက် အမှတ် (၁၈)၊ ရှိမြေ (၁.၃၇၇)ဧက အားငှားရမ်း၍ CMP စနစ်ဖြင့် Internet Cable ၏ အပေါ်/အောက် ကာဘာနှင့် စတီးကြိုးများကို သီးခြားစီခွဲခြား၍ ဖြတ်တောက်စိတ်ပိုင်းပြီး ထုတ်ပိုးသည့်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ လျှောက်ထားခြင်းအပေါ် ဤအသင်းချုပ်အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။



ဥက္ကဋ္ဌ ( မဝ )
ဒေါက်တာမျိုးသက်၊အထွေထွေအတွင်းရေးမှူး

မိတ္တူကို-
- လက်ခံစာတွဲ၊မျှောစာတွဲ

DDG 22
17/5

M.1591
16/13

M-557
20/5

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

စာအမှတ်၊ မူဝါဒ-MIC/၂၀၁၃(၄၁၁ /၂၀၁၃)
ရက်စွဲ၊ ၂၀၁၃ ခုနှစ် မေလ ၁၃ ရက်

သို့

အဆိုပြုချက်စိစစ်ရေးအဖွဲ့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာသော အဆိုပြုချက်များ အပေါ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ သဘောထား တောင်းခံခြင်းကိစ္စအားတင်ပြခြင်း။

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၅-၄-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-ထွေ/၂၀၁၃(၄၉၅၅)

၁။ ပြည်တွင်း/ပြည်ပရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ လွယ်ကူချောမွေ့စေရေးအတွက် ၄-၄-၂၀၁၃ ရက်နေ့တွင်ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေး သဘောတူချက်အရ ရည်ညွှန်းပါစာဖြင့်ညှိနှိုင်းလာသည့်ကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနအနေဖြင့် .ပတ်ဝန်းကျင်ထိန်းသိမ်းရေးနည်းဥပဒေကြမ်းပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာလိုအပ်ချက်များနှင့်စပ်လျဉ်းသည့် Briefing တစ်ရပ်ကို အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ နောက်တစ်ကြိမ် အစည်းအဝေးကျင်းပမည့်ရက်၌ အစည်းအဝေးအပြီးတွင် ပြုလုပ် ပေးနိုင်ပါကြောင်း ပြန်ကြားအပ်ပါသည်။

၂။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသည် ၁၉၉၄ ခုနှစ် အမျိုးသားပတ်ဝန်းကျင်ရေးရာ မူဝါဒ ဖော်ပြချက်ပါ "ဖွံ့ဖြိုးရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ရေးရာကာကွယ် စောင့်ရှောက်မှုကို ပဓာနကျသော ရည်မှန်းချက်အဖြစ် ထာဝစဉ် ထားရှိရမည် ဖြစ်သည်။" ဟူသည့် အချက်ကို ထိရောက်စွာအကောင်အထည်ဖော်ဆောင်ရွက်ရန်နှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုနှင့် အတူ ယှဉ်တွဲပါရှိလာတတ်သည့် ပတ်ဝန်းကျင်ထိခိုက်ပျက်ယွင်းမှုများကို ပတ်ဝန်းကျင်ထိန်းသိမ်း ရေးဥပဒေ၊ နည်းဥပဒေများနှင့်အညီ တားဆီးကာကွယ်နိုင်ရန် အလို့ငှာ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းကို ရေးဆွဲပြုစုလျက်ရှိရာတွင် နိုင်ငံတကာစံနှုန်းများနှင့် ကိုက်ညီစေသည့်အပြင် ပြည်တွင်း/ပြည်ပ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ လွယ်ကူချောမွေ့စေရေးကို လည်းအလေးထားစဉ်းစား၍ ရေးဆွဲပြုစုလျက်ရှိပါသည်။ ယင်းသို့ရေးဆွဲပြုစုရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း ပထမမူကြမ်းကို ၈-၂-၂၀၁၃ ရက်နေ့တွင် ကျင်းပ သည့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းရေးဆွဲရေးအဖွဲ့၏ ပထမအကြိမ် အစည်းအဝေးတွင်လည်းကောင်း၊ ပထမအကြိမ် အစည်းအဝေးမှ ဆွေးနွေးအကြံပြုချက်များအရ ပြင်ဆင်ပြုစုထားသည့် ဒုတိယမူကြမ်းကို ၉-၃-၂၀၁၃ ရက်နေ့တွင်ကျင်းပခဲ့သည့်ဒုတိယအကြိမ်

အစည်းအဝေးတွင် လည်းကောင်း ဆွေးနွေးညှိနှိုင်းခဲ့ပြီး ယခုအခါ ဒုတိယအကြိမ်အစည်းအဝေးတွင် ဆွေးနွေးအကြံပြုချက်များအပေါ် မူတည်၍ တတိယမူကြမ်းကို ပြင်ဆင်ပြုစုလျက်ရှိပါသည်။ ယင်း တတိယမူကြမ်းကို ပြုစုပြီးပါက သက်ဆိုင်ရာ ဝန်ကြီးဌာန၊ အဖွဲ့အစည်းများသို့ပေးပို့၍ ၎င်းတို့၏ သဘောထားမှတ်ချက်များနှင့်အညီ စတုတ္ထမူကြမ်းကို ဆက်လက်ပြုစုရန်နှင့် ယင်းစတုတ္ထမူကြမ်းကို သက်ဆိုင်ရာ စီးပွားရေးလုပ်ငန်းရှင်များ အပါအဝင် အများပြည်သူအားချပြပြီး ၎င်းတို့၏ အကြံပြု ချက်များအရ ပဉ္စမမူကြမ်း(အပြီးသတ်မူကြမ်း)အဖြစ် ဆက်လက်ပြုစုရန် စီစဉ်ဆောင်ရွက်လျက် ရှိပါသည်။

၃။ သို့ပါ၍ ရည်ညွှန်းစာ အပိုဒ် ၁(ခ)ပါ EIA, SIA, HIA, IEE, EMP အပါအဝင် ပတ်ဝန်းကျင် ဆိုင်ရာသတ်မှတ်ချက်အဆင့်ဆင့်ကန့်သတ်ချက်၊ လိုအပ်ချက်စာရင်းမူကြမ်းများ တောင်းခံပြီး ယာယီ လက်စွဲလမ်းညွှန်အဖြစ် အသုံးပြုရေးကိစ္စနှင့်စပ်လျဉ်း၍မူ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း(အပြီးသတ်မူကြမ်း)ပြုစုပြီးမှသာဆက်လက်ညှိနှိုင်း ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်းပြန်ကြားအပ်ပါသည်။

( နေအေး )
ညွှန်ကြားရေးမှူးချုပ်

မိတ္တူ
ရုံးလက်ခံ၊ အမှုတွဲချုပ်၊ မျှောစာတွဲ။

**၁၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြလာသော အဆိုပြုချက်များ အပေါ် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန သို့ သဘောထား တောင်းခံခြင်း ကိစ္စအား တင်ပြခြင်း ကိစ္စ**

ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ ဒုတိယ ညွှန်ကြားရေးမှူး ဒေါ်နီနီအေးမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြလာသော အဆိုပြုချက်များ အပေါ် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ သဘောထား တောင်းခံသည့် ကိစ္စအား ရှင်းလင်း တင်ပြပါသည်။

ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန၊ ဒုတိယ ညွှန်ကြားရေးမှူးချုပ် ဒေါ်ချိုချိုဝင်းမှ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ခြင်း လုပ်ငန်း (ဆေးဆိုးပန်းရိုက်မပါသော လုပ်ငန်း)တွင် ပြင်ပ ပုဂ္ဂလိက ကုမ္ပဏီတစ်ခုအား ပတ်ဝန်းကျင် ဆန်းစစ်ချက်အတွက် EIA ၊ SIA ဆောင်ရွက်ရန်အတွက် လုပ်ငန်းအပ်နှံရာ အမေရိကန်ဒေါ်လာ(၁)သန်းနီးပါး ကုန်ကျမည်ဟု ကြားသိရပါကြောင်း၊ CMP လုပ်ငန်းအနေဖြင့် ရင်းနှီးမည့်ငွေထက် များသော ပမာဏဖြစ်နေ၍ ကုမ္ပဏီအနေနှင့် မတတ်နိုင်ဟု သိရပါကြောင်း၊ Business Community ၊ Mining Summit ၊ Tourism Summit အလုပ်ရုံ ဆွေးနွေးပွဲများတွင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မှု ကို အလေးထား၍ ဆွေးနွေးကြပါကြောင်း၊ ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်မည့် ကုမ္ပဏီ များသည် EIA ၊ SIA အစီအစဉ် ရေးဆွဲရာတွင် ပြင်ပပုဂ္ဂလိက ကုမ္ပဏီများသို့ လုပ်ငန်းအပ်နှံရာတွင် နိုင်ငံခြားငွေ သန်းဂဏန်းနီးပါး ပေးရသည်ကို ကြားသိရပါကြောင်း၊ နိုင်ငံတော် အနေဖြင့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများကို ဖိတ်ခေါ်ပြီး မြေငှားရမ်းခဈေးကြီးခြင်း၊ EIA ၊ SIA ရေးဆွဲရာတွင် ပြင်ပပုဂ္ဂလိက ကုမ္ပဏီများသို့ လုပ်ငန်း အပ်နှံခများ ဈေးကြီးခြင်းတို့ကြောင့် ပြင်ပမှ လွှတ်တော်နှင့် ကော်မရှင်ကို ဝေဖန် ဆွေးနွေးသံများ ကြားနေရကြောင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနမှ ပြန်ကြားလာသော နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ၊ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု တို့၏ သဘောထား မှတ်ချက် ပြန်ကြားစာများမှာ တူညီနေသည်ကို တွေ့ရကြောင်း၊ လုပ်ငန်း မြန်ဆန်အောင် နည်းလမ်းရှာသင့်ကြောင်း၊ ရင်းနှီးမြှုပ်နှံမှုများ ပြုလုပ်ရန် ရန်ကုန်မြို့တွင် မြေလွတ်နည်းပါးနေ၍ ပဲခူးတိုင်းတွင် လုပ်ကိုင်ရန် လမ်းညွှန်ထားပါကြောင်း၊ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေသစ် ရေးဆွဲစဉ်က ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းနှင့် ဆက်နွယ်နေသော သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်းခံပါကြောင်း၊ နိုင်ငံတကာကိုလည်း အသိပေး ကြောင်း၊ နိုင်ငံတကာမှ ပေးပို့ လာသည့် အကြံဉာဏ်များကိုလည်း ထည့်သွင်းစဉ်းစားကြောင်း၊ မြေကိစ္စနှင့်ပတ်သက်၍ အမျိုးသား စီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန၏ လေးလပတ် အစည်းအဝေးတွင် ပြည်ထောင်စုဝန်ကြီးမှ မြေနှင့်ပတ်သက်၍ အသေးစိတ်စာရင်း ပြုစု တင်ပြရန် မိမိတို့ကို လမ်းညွှန်ပါကြောင်း ဆွေးနွေး ပြောကြား ပါသည်။

ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ လက်ထောက်ညွှန်ကြားရေးမှူး ဦးကိုကိုအေးမှ မိမိတို့ ဌာနမှာ မကြာခင်က ဖွဲ့စည်းသော ဦးစီးဌာနအသစ်ဖြစ်ပြီး လုပ်ငန်း အတွေ့အကြုံ နည်းပါကြောင်း၊

